MF-8168
28-9-18

Nay Brothers
Group of Companies

စာအမှတ် ၊၀၀၈ / စီမံ- / ၀၁၈
ရက်စွဲ ၊၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ၊( ၂၈ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။အတည်ပြုမိန့်ပြန်လည်ပြင်ဆင်ခွင့်ပြုပါရန်လျှောက်ထားခြင်း

၁။ ကျွန်တော်ဦးအောင်သူ Managing Director,Nay Brothers Co.,Ltdသည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငွေဆောင်မြို့နယ်ခွဲ၊ အမှတ်(၃)ရပ်ကွက်၊ မြို့မလမ်း၊ ဦးပိုင်အမှတ်/မြေကွက်အမှတ် (၁၆/၁+ N၁၄၈ + N၁၅၈)ရှိ ကျွန်တော်ပိုင် မြေဧရိယာ (၂. ၈၀)ဧကပေါ်တွင် The Village Resort အမည်ဖြင့် ဟိုတယ်လုပ်ငန်းလုပ်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၈ခုနှစ်၊ စက်တင်ဘာလ( ၇ )ရက်နေ့ရက်စွဲပါ အတည်ပြုမိန့်အမှတ် ၁၁၄/၂၀၁၈ ရရှိခဲ့ပါသည်။ ထိုအတည်ပြုမိန့် အမှတ် ၁၁၄/၂၀၁၈တွင် စုစုပေါင်းမတည်ငွေရင်းပမာဏအား (ကျပ်) ၆၀၇၀. ၀၀ သန်းသာဖော်ပြထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အတည်ပြုမိန့်လျှောက်လွှာတွင် ဖော်ပြထားခဲ့သည့် အမေရိကန်ဒေါ်လာ( ၅၀၀၀၀၀ )အပါအဝင် စုစုပေါင်းမြန်မာကျပ်ငွေ ( ၆၀၇၀. ၀၀ )သန်း ဖြစ်ပါသည်။ သို့ဖြစ်ပါသောကြောင့် ထိုအတည်ပြုမိန့်အမှတ် ၁၁၄/၂၀၁၈အား ပြန်လည်ပြင်ဆင်ခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

ဦးအောင်သူ
Managing Director
Nay Brothers Co.,Ltd

No.43 .Parami Road .8 Ward. Yankin Township,Yangon,Myanmar
Tel: +95-1-661556 Fax: +95-1-660809

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၁ ရက်

အကြောင်းအရာ။ **အတည်ပြုမိန့်ပါ မတည်ငွေရင်း ပမာဏအား ပြင်ဆင်ခွင့်ပြုပါရန် တင်ပြလာသည့်ကိစ္စ**

၁။ ကုမ္ပဏီအမည် - Nay Brothers Co., Ltd.

၂။ လုပ်ငန်းအမျိုးအစား - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

၃။ ~~ခွင့်ပြုမိန့်~~အမှတ်/ရက်စွဲ - ၁၁၄/၂၀၁၈(၇-၉-၂၀၁၈)

၄။ တည်နေရာ - ဦးပိုင်အမှတ် ၁၆/၁ +N၁၄၈+N၁၅၈၊ ကွင်းအမှတ် (၁၉၈၆) ငဆော်ကွင်း၊ အမှတ်(၃) ရပ်ကွက်၊ မြို့မလမ်း၊ ငွေဆောင်မြို့နယ်၊ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး

၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - စုစုပေါင်းကျပ် ၆၀၇၀.၀၀ သန်း

၆။ တည်ဆောက်ရေးကာလ - ၁ နှစ်

၇။ ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် ရရှိထားသည့် အတည်ပြုမိန့်ပါ မတည်ငွေရင်း ပမာဏအား မူလ စုစုပေါင်း ကျပ် ၆၀၇၀.၀၀ သန်း အစား အမေရိကန်ဒေါ်လာ ၀.၅၀ သန်း အပါအဝင် စုစုပေါင်း ကျပ် ၆၀၇၀.၀၀ သန်းဖြင့် အမှန်ပြင်ဆင်ခွင့်ပြုပါရန် တင်ပြလာခြင်းဖြစ်ပါသည်။

၈။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ အတည်ပြုမိန့်အတွက်အဆိုပြုချက်တင်ပြစဉ်က တင်ပြခဲ့သည့် ရင်းနှီးမြှုပ်နှံမှု ခန့်မှန်း တန်ဖိုးတွင် အမေရိကန်ဒေါ်လာ ၅၀၀၀၀၀ တန်ဖိုးရှိ ပြည်ပမှဝယ်ယူမည့်ပစ္စည်းတန်ဖိုးအား ခန့်မှန်းတင်ပြထားခဲ့သည်ကိုတွေ့ရှိရပါသည်။

(ခ) သို့သော် **အတည်ပြုမိန့်ပါ မတည်ငွေရင်းဖော်ပြချက်၌** စုစုပေါင်း ကျပ် ၆၀၇၀.၀၀ သန်းသာ ဖော်ပြထားပြီး **နိုင်ငံခြားသုံးငွေအားဖော်ပြထား**ခြင်းမရှိသဖြင့်အတည်ပြုမိန့်အား အမှန်ပြင်ဆင်ပေးပါရန် တင်ပြလာခြင်းဖြစ်ပါသည်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

(ဂ) အဆိုပါကိစ္စအပေါ် ကော်မရှင် အတွင်းရေးမှူးမှ အတည်ပြုမိန့်အား ပြင်ဆင်ပေးရန် လမ်းညွှန်မှုပြုထားပြီးဖြစ်ပါသည်။

၉။ သို့ဖြစ်ပါ၍ Nay Brothers Co., Ltd. ၏ ဟိုတယ်လုပ်ငန်းဆောင်ရွက်နိုင်ရန် ထုတ်ပေးထားသည့် အတည်ပြုမိန့်ပါ မတည်ငွေရင်းပမာဏအား မူလ စုစုပေါင်း ကျပ် ၆၀၇၀.၀၀ သန်း အစား အမေရိကန်ဒေါ်လာ ၀.၅၀ သန်း အပါအဝင် စုစုပေါင်း ကျပ် ၆၀၇၀.၀၀ သန်းဖြင့် ပြင်ဆင်ခွင့်ပြုကြောင်း ပြန်ကြားမည့်စာအား အတည်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | ကြီးကြပ်သူ |
|---|---|---|
| လက်မှတ်- | (signature) | (signature) 2/10/18 |
| အမည်- | အောင်မင်းဦး | ဇင်မာမြင့် |
| ရာထူး- | ဦးစီးအရာရှိ | ဒုတိယညွှန်ကြားရေးမှူး |

ညွှန်ကြားရေးမှူး

၁၀။ [illegible]